




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၅၈ / ၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ ၂၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးစိန်တိုး

(ခ) အဘ အမည် ဦးမောင်ငယ်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ် ၁၂/ဥကမ(နိုင်) ဝ၂၅၉၈၈

(ဃ) နေရပ်လိပ်စာ အမှတ်-၅၆၊ အောင်မင်္ဂလာလမ်း၊ တံတားကြီးရပ်ကွက်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း JMKS Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်၊ အေးမြသာယာ ကျေးရွာအုပ်စု၊ အေးမြသာယာကျေးရွာ(က)၊ ကွင်းအမှတ်(၁)၊ ဦးပိုင်အမှတ်(၈၉)ရှိ လန-၃၉ မြေ(၄.၉၂) ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၅၄၀.၇၅ သန်း (အမေရိကန်ဒေါ်လာ (၀.၄၀) သန်း အပါ အဝင် စုစုပေါင်းကျပ် ငါးရာလေးဆယ်သန်းနှင့် ခုနှစ်သိန်းငါးသောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ကန့်သတ်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၅/၂၀၁၄(မနသ)

၂၀၁၄ ခုနှစ် ဇန်နဝါရီ လ ၂၇ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော JMKS Co., Ltd. သည် အုပ်ချုပ်မှု ဒါရိုက်တာ ဦးစိန်တိုး အမည်ပေါက်ပိုင်ဆိုင်သော ပဲခူးတိုင်းဒေသကြီး၊ အနောက်ပိုင်း သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်၊ အေးမြသာယာ ကျေးရွာအုပ်စု၊ အေးမြသာယာကျေးရွာ(က)၊ ကွင်းအမှတ်(၁)၊ ဦးပိုင် အမှတ်(၈၉)ရှိ လန-၃၉ မြေ (၄.၉၂)ဧက တွင် (အလျား၂၅၀' x အနံ ၈၀' x အမြင့်၁၈') ရှိသော အဆောက်အဦ(၁)လုံး တည်ဆောက်၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၈-၁-၂၀၁၄)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁/၂၀၁၄) အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂၊ ပုဒ်မခွဲ(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် JMKS Co., Ltd. အား CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၅၈/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ JMKS Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ)အရ လုပ်ငန်းက ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ကန့်သတ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင် တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက် ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ JMKS Co., Ltd. သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ JMKS Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ JMKS Co., Ltd. ၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဦးစိန်တိုး အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည်ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာ ထည့်ဝင်မှု ကိစ္စများ ဆောင်ရွက်ပြီးစီးသည့် အချိန်တွင် အဆိုပါ မြေကွက်အား JMKS Co., Ltd.၏ အမည်ပေါက် ဖြစ်စေရေးအတွက် တိုင်းဒေသကြီး အစိုးရအဖွဲ့သို့ လျှောက်ထားရမည်။ မြေငှားရန် ရရှိပါက မြေငှားရန်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ JMKS Co., Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် (Initial Environmental Examination, Environmental Management Plan)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၉။ JMKS Co., Ltd. မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်း

ဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၀။ JMKS Co., Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိ ပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ JMKS Co., Ltd. သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသကြီး စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၂။ JMKS Co., Ltd. သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံ ဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ် လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ JMKS Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား

အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် စက်ရုံပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၆(က)/မ-၁၃၈၀ / ၂၀၁၄ (၈၂၂ – ၉)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၂၇ ရက်

**မြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေး ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ကန့်သတ်

၆

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပဲခူးမြို့

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများကြီးကြပ်ရေး ကော်မတီ၊ (အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အထည်အလိပ် လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ JMKS Co., Ltd.

ကန့်သတ်

**JMKS Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့်**
**စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - JMKS Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိန်တိုး (အဘ-ဦးမောင်ငယ်) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း | - ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်၊ အေးမြသာယာ ကျေးရွာအုပ်စု၊ အေးမြသာယာ ကျေးရွာ၊ ကွင်းအမှတ်(၁)၊ ဦးပိုင်အမှတ်(၈၉)ရှိ လန-၃၉ မြေ (၄.၉၂) ဧက |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ<br>- ငွေသား<br>- စက်ပစ္စည်းကိရိယာများ (ပြည်ပဝယ်)<br>- အဆောက်အဦ<br>-မြေ<br>- ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | - **ကျပ် ၅၄၀.၇၅ သန်း** (US$ ၀.၄၀ သန်း အပါအဝင်)<br>ကျပ် ၁၀.၀၀ သန်း<br>ကျပ် ၃၈၅.၇၅ သန်း (US$ ၀.၄၀ သန်း)<br>ကျပ် ၁၂၀.၀၀ သန်း<br>ကျပ် ၁၀.၀၀ သန်း<br>ကျပ် ၁၅.၀၀ သန်း |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - နှစ်(၃၀) |
| ၈။ | တည်ဆောက်ရေးကာလ | - ၁၂ လ |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၄၀.၂၃ သန်း<br>- ကျပ် ၆.၃၈ သန်း |
| ၁၀။ | ရောင်းချပုံနည်းစနစ် | - CMP စနစ်ဖြင့် ပြည်ပ (၉၉%)၊ ပြည်တွင်း (၁%) |
| ၁၁။ | လုပ်သားအင်အား<br>ပြည်တွင်း | - (၃၀၇) ဦး<br>(၃၀၇) ဦး |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၆(က)/မ- ၁၃၈၀ / ၂၀၁၃(၁၀၄၄၅ )
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

---

အကြောင်းအရာ။ **JMKS Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်တွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ JMKS Co., Ltd. သည် ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်၊ အေးမြသာယာကျေးရွာအုပ်စု၊ အေးမြသာယာကျေးရွာ၊ ကွင်းအမှတ်(၁)၊ ဦးပိုင်အမှတ်(၈၉)ရှိ လန-၃၉ မြေ (၄.၉၂)ဧက တွင် (အလျား၂၅၀' x အနံ ၈၀' x အမြင့်၁၈') ရှိသော အဆောက်အဦ (၁)လုံး တည်ဆောက်၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံ မှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိန်တိုး (အဘ-ဦးမောင်ငယ်) မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါ သည်။

၂။ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ နှစ်(၃၀) ဖြစ်ပါသည်။လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၄၀)သန်း အပါအဝင် စုစုပေါင်း ကျပ်(၅၄၀.၇၅)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာများ တန်ဘိုး အမေရိကန်ဒေါ်လာ (၀.၄၀) သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် | ၁၀.၀၀ သန်း |
| (ခ) | စက်ပစ္စည်းကိရိယာများ (ပြည်ပ ဝယ်) | ကျပ် | ၃၈၅.၇၅ သန်း (US$ ၀.၄၀ သန်း) |
| (ဂ) | အဆောက်အဦ | ကျပ် | ၁၂၀.၀၀ သန်း |
| (ဃ) | မြေ | ကျပ် | ၁၀.၀၀ သန်း |
| (င) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် | ၁၅.၀၀ သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | ကျပ် | ၅၄၀.၇၅ သန်း (US$ ၀.၄၀ သန်း အပါအဝင်) |

၃။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၃၀၇)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် (၁၀၀,၀၀၀) ဖြစ်ပါသည်။

၄။ အဆိုပြု လုပ်ငန်းမှ ချုပ်လုပ်ပြီး အထည်များကို CMP စနစ်ဖြင့် ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့ရောင်းချပြီး ပြည်တွင်း၌ Reject (၁)ရာခိုင်နှုန်း ရောင်းချမည် ဖြစ်ပါသည်။ ၇ နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှု၊ CMPလက်ခနှုန်း နှင့် ပြည်တွင်း ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Pcs) | CMP လက်ခနှုန်း (USD/ Pcs) | ပြည်တွင်း ရောင်း ဈေးနှုန်း (ကျပ်/ Pcs ) |
|---|---|---|---|---|
| (က) | Blouson | ၁၉၆,၇၇၅ | ၀.၈၀ | ၉၀၀၀ |
| (ခ) | Shirts | ၂၄၅,၉၆၉ | ၀.၆၀ | ၇၀၀၀ |
| (ဂ) | Pants | ၃၁၉,၇၅၉ | ၀.၆၀ | ၇၀၀၀ |
| (ဃ) | Vest | ၁၉၆,၇၇၅ | ၀.၅၀ | ၅၀၀၀ |
| (င) | Jacket | ၁၉၆,၇၇၅ | ၀.၈၀ | ၇၀၀၀ |
| (စ) | Skirt | ၂၄၅,၉၆၉ | ၀.၅၀ | ၅၀၀၀ |
| (ဆ) | Coat | ၂၄၅,၉၆၉ | ၀.၉၀ | ၁၀၀၀၀ |
| (ဇ) | Blouse | ၁၉၆,၇၇၅ | ၀.၆၀ | ၅၀၀၀ |

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၇ နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ=၉၇၃ ကျပ်**

| | | **US$** | **ညီမျှသော ကျပ်(သန်း)** | **ပြည်တွင်း ကျပ်(သန်း)** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁.၂၀၃ | ၁၁၇၀.၅၂ | ၁၂၇.၆၇ | ၁၂၉၈.၁၉ |
| (ခ) | အသုံးစရိတ် | - | - | (၁၁၇၇.၅၁) | ၁၁၇၇.၅၁ |
| (ဂ) | အသားတင် အမြတ် | ၁.၂၀၃ | ၁၁၇၀.၅၂ | (၁၀၄၉.၈၄) | ၁၂၀.၆၈ |

၆။ နိုင်ငံတော်မှ ၇နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၆.၃၈)သန်း နှင့် ဝင်ငွေခွန် ကျပ် (၄၀.၂၃)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၄)နှစ် နှင့် (၂)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၃ ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

**(က) ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် နေရာသည် လက်ရှိမြို့ပြစီမံကိန်း နယ်မြေများ၏ ပြင်ပတွင် တည်ရှိသဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းအား ထိခိုက်ခြင်း မရှိပါကြောင်း၊

(၂) အဆိုပါ စက်ရုံတည်ထောင်ခြင်းဖြင့် အုတ်ဖိုမြို့နယ်ရှိ လူဦးရေ (၃၀၇)ဦးခန့်ကို အလုပ်အကိုင် အခွင့်အလမ်း ရရှိနိုင်သည့်အတွက် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ဖြစ်စေနိုင်ပါကြောင်း၊

(၃) အဆိုပါ စက်ရုံတည်ထောင်ခြင်းဖြင့် ဒေသခံပြည်သူများ၏ လူမှုရေး၊ စီးပွားရေးကိုမထိခိုက်သည့်အပြင် အလုပ်အကိုင်များပါရရှိနိုင်ပြီးပတ်ဝန်းကျင်ထိန်းသိမ်းမှုကိုလည်း ထိခိုက်မှု မရှိပါကြောင်း၊

(၄) စက်ရုံတည်ထောင်ပါက ဒေသခံပြည်သူများ၏ အလုပ်အကိုင် အခွင့်အလမ်းများ တိုးပွားရရှိလာနိုင်မည် ဖြစ်ပြီး၊ တိုင်းဒေသကြီး၏ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို တစ်ဘက်တစ်လမ်းမှ အထောက်အကူ ဖြစ်စေနိုင်မည် ဖြစ်ပါ၍ သက်ဆိုင်ရာ စက်ရုံအား သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေးကို စနစ်တကျ အလေးထားလိုက်နာဆောင်ရွက်စေပြီး စက်ရုံတည်ထောင် အသုံးပြုခွင့် ပြုသင့်ပါကြောင်း ၊

**(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ - ခ)**

(၁) အထည်ချုပ်လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(၂) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန် အတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination - IEE) လုပ်ငန်းကို ဆောင်ရွက်ရန်၊

(၃) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့နည်းပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန် နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၄) နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေတို့နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာခြင်း (Initial Environmental Examination –IEE) နှင့် ပတ်ဝန်းကျင် ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan _ EMP)တို့ကို Green Myanmar Environmental Services Co., Ltd. မှ တာဝန်ယူ လေ့လာသုံးသပ် ပေးမည် ဖြစ်ကြောင်း၊အစီရင်ခံစာ အပြည့်အစုံကို ၂၀၁၄ခုနှစ် ဖေဖော်ဝါရီလ ဒုတိယပတ်တွင် ပေးပို့တင်ပြသွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။)**

(ဂ) **CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (နောက်ဆက်တွဲ - ဂ)**

(၁) CMP ကုန်ကြမ်း လိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၂) CMP လက်ခန့်ခန့်ထားများ ဆီလျော်မှု ရှိပါကြောင်း၊

(၃) နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှု ရှိပါကြောင်း၊

(၄) အနိမ့်ဆုံး(Helper)လစာတိုးမြှင့် သတ်မှတ်ပေးသင့်ပါကြောင်းနှင့်တည်ဆဲဥပဒေများနှင့်အညီ ဖြစ်ပါက ကန့်ကွက်ရန် မရှိပါကြောင်း၊

(ဃ) ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့်စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် (နောက်ဆက်တွဲ - ဃ)

JMKS Co., Ltd. သည် ပဲခူးတိုင်းဒေသကြီး၊ သာယာဝတီခရိုင်၊ အုတ်ဖိုမြို့နယ်၊ အေးမြ သာယာကျေးရွာအုပ်စု၊ အေးမြသာယာကျေးရွာ၊ ကွင်းအမှတ်(၁)၊ ဦးပိုင်အမှတ်(N-၁၄)ရှိ လန-၃၉ မြေ (၄.၉၂)ဧက တွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက် ထားခြင်းအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

၈။ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ရန်အတွက် Kojima Iryo Co., Ltd. (ဂျပန်) နှင့် JMKS Co., Ltd. တို့ ချုပ်ဆိုထားသည့် Memorandum Of Understandings ကို တင်ပြ ထားပါသည်။

၉။ ကျပ်ငွေ အထောက်အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် CB Bank ရှိ (၁၇-၁၂-၂၀၁၃) နေ့ ငွေလက်ကျန် ကျပ်(၉၉.၉၀၁)သန်း တင်ပြထားရာ [သုံးစွဲမည့်ငွေ ကျပ်(၁၅၅)သန်း၏ ၆၄ % ] နှင့် နိုင်ငံခြားငွေ အထောက်အထား အဖြစ် ကုမ္ပဏီအမည်ဖြင့် CB Bank ရှိ (၉-၁၂-၂၀၁၃)နေ့ နိုင်ငံခြားငွေ လက်ကျန် US$ (၀.၀၅) သန်း တင်ပြထား၍ [သုံးစွဲမည့် နိုင်ငံခြားငွေ US$(၀.၄၀)သန်း ၏ ၁၃ % ] တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင် မှု မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းသည် လုပ်ငန်းအသစ် ဖြစ်ပါကြောင်း၊ လုပ်ငန်းမှ ထွက်ရှိသော အဝတ်အထည်များ၏ ၁ % ကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပြီး ၉၉% ပြည်ပသို့ တင်ပို့မည် ဖြစ်ပါကြောင်း၊ မြေယာပိုင်ဆိုင်မှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ဝယ်ယူမည့် စက်ပစ္စည်းများသည် အသစ်ဖြစ်ကြောင်း၊ လုပ်ငန်းအတွက် ကုန်ပစ္စည်းများတင်သွင်း တင်ပို့ရာတွင် ရေကြောင်း ခရီး/ ကုန်းကြောင်းခရီး/လေကြောင်းခရီး တို့ဖြင့်သာ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေအရ ပဲခူးတိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန၏ ကြီးကြပ်မှုကို ခံယူဆောင်ရွက်မည် ဖြစ်ကြောင်း၊ စက်ရုံမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများကို ဥပဒေလုပ်ထုံး လုပ်နည်းများနှင့် အညီ စနစ်တကျ စွန့်ပစ်မည် ဖြစ်ပါကြောင်း၊ အုတ်ဖိုမြို့နယ် စည်ပင်သာယာရေး ကော်မတီ၏ ကြီးကြပ်မှုအရ စွန့်ပစ်သွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွား စေရန်နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ် များ တင်ပြ ထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည် ဖြစ်ပြီး လိုအပ်ပါက ကိုယ်ပိုင် မီးစက် (Generator 350 KVA)တို့ဖြင့် သုံးစွဲသွားမည် ဖြစ်ပါကြောင်း တင်ပြထား ပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည ၊ ဋ ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၃။ သို့ဖြစ်ပါ၍ JMKS Co., Ltd. မှ ပဲခူးတိုင်းဒေသကြီး ၊အုတ်ဖိုမြို့နယ် တွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ် ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း ၊ ဒုတိယ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ